

## ထုတ်ဝေသူ၏ဆန္ဒ

ယနေ့လူငယ်လူရွယ်များနှင့် အထူးသဖြင့် ကလေးငယ်များ ဘာသာရေးစာပေကို စိတ်ဝင်တစား ဖတ်ရှုနိုင်ရန်အတွက် ဆေးရောင်စုံ ကာတွန်းရုပ်ပြအဖြစ် သပ်ရပ်ခန့်ညားစွာ ဖတ်ချင်စဖွယ် ရှိလာအောင် မိမိအနေဖြင့် အစွမ်းကုန်ကြိုးစားထားပါသည်။

မိမိ၏ဆန္ဒမှာ ဤစာအုပ်ကို ကလေးသူငယ်များနှင့် လူငယ်လူရွယ်များ ဖတ်မိသွားပြီး အသိတရားနှင့် ဗဟုသုတရရှိပြီး လိမ္မာယဉ်ကျေးသော လူငယ်လူရွယ်များ ဖြစ်လာစေရန် ဖြစ်ပါသည်။

ဆက်လက်ပြီး အမျိုး၊ ဘာသာ၊ သာသနာနှင့်ယဉ်ကျေးမှု ဗဟုသုတနှင့် ပတ်သက်သော စာအုပ်ကောင်းများကိုလည်း ဆက်လက်ထုတ်ဝေသွားမည်ဖြစ်ပါသည်။



မောင်မျိုး
မြင့်မိုရ်မေမေစာပေ

## Publisher's Opinion

I have tried to the best of my abilities for this color cartoon illustration to be young people especially for the children so that they can read religion books.

My opinion is the children and the young read this book and get spirit and knowledge and to become clever and polite persons.

I will continue to publish the best books concerned naitonality, religion, teaching and culture.



Maung Myo
Myintmoh Maymay Literature

# မာတိကာ



# Contant

# အိမ်၌ယဉ်ကျေးခြင်း

Politeness at home

## ကျယ်လောင်စွာ စကားမပြောရ ဆူညံခြင်းမပြုရ

Don't talk loudly and don't be noisy

ဟိန်းထက်အောင်နဲ့ နဒီတို့ဟာ စကားပြောရင် အကျယ်ကြီးပြောလေ့ရှိကြတယ် ...

Hein Htet Aung and Nadi are in the habit of talking loudly.









ဟဲ့ ဟဲ့
ညီမလေးနဲ့မောင်လေးတို့
စကားပြောရင် တိုးတိုးပြော
ကြလေ၊ အိမ်မှာ မဆူညံရဘူး။
စကားအကျယ်ကြီး မပြောရဘူးကွ
Heh! Sister and brother, don't talk loudly and don't be noisy at home.

ဆူတော့
စကားအကျယ်ကြီး
ပြောတော့ ဘာဖြစ်လို့လဲ
မမမေမြတ်နိုးရဲ့
What will be if we talk loudly and noisily?

ကိုယ့်အိမ်က ဆူညံတော့
အိမ်နီးနားချင်းတွေကို အနှောင့်အယှက်
ဖြစ်စေတယ်ကွဲ့၊ ကိုယ့်အိမ်ကလူကြီးမိဘတွေကို
လည်း အနှောင့်အယှက်ဖြစ်စေတယ်
If you are noisy, it will be disturbance for your next door neighbours, and our family as well.



ဟုတ်တယ် ဟိုမှာ
ဘိုးဘိုး ဘုရားရှိခိုးနေတယ်
Yes, grandpa is worshipping.

ညီမလေးတို့မသိလို့
ဆူညံအော်ဟစ်ပြောမိကြတာပါ
မမမေမြတ်နိုး
We don't know it elder sister May Myat Noe.

အေး အိမ်မှာ
နေရင်လည်း အိမ်ရဲ့ယဉ်ကျေး
မှုကို ဂရုပြုရမယ်ကွဲ့၊ စကား
အကျယ်ကြီးမပြောရဘူး။
မဆူညံရဘူး။
If you're at home, you must live politely. Don't talk aloud and noisily.

ဟုတ်ကဲ့
မှတ်ထားပါ့မယ်
မမမေမြတ်နိုး
Yes, we will behave, elder sister May Myat Noe.



## သူများမနိုးသေးခင်နိုးလျှင် အသံကျယ်ကျယ်မပြောရ

Don't talk loudly when you wake-up early

ညက မိုးအေးနေလို့ အိပ်ရာ
စောစောဝင်ခဲ့တဲ့ ဟိန်းထက်အောင်ဟာ
ဒီနေ့မနက်မှာ အစောကြီးနိုးနေတော့
တယ်။

Last night, as it was cold, Hein Htet Aung went early to be. So he wakes up early in the morning.

ဟဲ့ နဒီ နဒီ ထတော့ ထတော့ မိုးလင်းနေပြီ
Heh! Nadi, wake up. It's in morning.

ကိုကိုနော် သူ အစောကြီးနိုးတိုင်း သူများကို လိုက်နှိုးမနေနဲ့
No, you sleep early last night and now you wake me up.

နှိုးမှာပဲ၊ အိပ်ပုတ်ကြီးမလေး ထ ထ
I'll wake you up! You're fond of sleeping.

ကိုကို မယုတ်မာနဲ့
Brother, don't be silly.

ဟဲ့ ဟဲ့ အမယ်လေးလေး စောစောစီးစီး ဘယ့်နှယ် အော်ဟစ်နေရတာလဲ၊ မေမေတောင် လန့်နိုးသွားတယ်ကွယ်
Heh! Why are you talking loudly early in the morning? Even I wake up.

ဒီမှာ ကိုကိုပေါ့ လိုက်နှိုးနေတယ်
He is waking me up.

နင် အိပ်ပုတ်ကြီး တာကိုး
You're fond of sleeping.

ဘယ်မှာကြီးလို့လဲ
I'm not fond of sleeping.

ဟဲ့ ဟဲ့ အော်ပြန်ပြီ
Heh! You talk loudly again.

သမီးတို့ သားတို့
သူများမနိုးခင် ကိုယ်နိုးနေရင်
စကားအသံကျယ်ကျယ်မပြောရ
ဘူး။ မဆူရဘူး မအော်ရဘူးကွဲ့.
If you wake up earlier
than others, don't
talk too loudly.
Don't be noisy.

အိပ်ပျော်နေတဲ့
လူကြီးမိဘတွေ လန့်နိုးသွားရင်
ငရဲကြီးတတ်တယ်၊ ခုဆို ဖေဖေရော
ဘိုးဘိုးနဲ့ဘွားဘွားပါ အိပ်နေကြတုန်း၊
If the sleeping elderly people
wake up in alarm, you'll
be condemned by hell. Now,
your father and grandparents
are still sleeping.

ဒါကြောင့် နောက်ကို
သူတစ်ပါးမနိုးခင် နိုးလာတဲ့
အခါ မဆူညံရဘူး။ စကားအသံ
ကျယ်ကျယ် မပြောရဘူးနော်
So next time, don't talk
aloud when others are
sleeping.

ဟုတ်ကဲ့ပါ
မေမေ
Yes, mother.



# လူကြီးကပေးလျှင် လက်နှစ်ဖက်ဖြင့် ခံယူရာ၏။
# မိမိပေးလျှင်လည်း လက်နှစ်ဖက်ဖြင့် ပေးအပ်ရာ၏။

When you take or give something, use your two hands

ဒီလ လပတ်စာမေးပွဲမှာ ပထမရတဲ့ ဟိန်းထက်အောင်ကို ဘိုးဘိုးက ဆုချတဲ့ အနေနဲ့ မုန့်ဖိုးအများကြီးပေးတယ်။

In monthly exam, Hein Htet Aung stands first in the class. So his grandpa gives him lots of pocket-money as reward.

ရော့ ကြိုးစားတဲ့ ငါ့မြေးလေးအတွက် မုန့်ဖိုး

Take this pocket-money for your success.



ဟိန်းထက်အောင်က မုန့်ဖိုး ငွေကို လှမ်းယူလိုက်တယ်။

Hein Htet Aung hands out to get it.






မြေးလေး ဘွားဘွားကို
ဟိုစားပွဲပေါ်က ဒဏ်ကြေ
လိမ်းဆေးဘူးလေး
ပေးစမ်းပါကွယ်
Grandson, please hand
this lotion to me.

ဟိန်းထက်အောင်က စားပွဲပေါ်က သွားယူပြီး ဘွားဘွားကို ဒဏ်ကြေလိမ်းဆေးဘူး လှမ်းပေးတယ်။
Hein Htet Aung take it from the table and give his grandma.










ဩော် ဟုတ်ကဲ့
မမမေမြတ်နိုး ဒီလိုမဟုတ်လား
Oh! Yes, I forget it. Do I give like this?

အေး ဒါမှ ယဉ်ကျေးမှုရှိမှာပေါ့၊
အိမ်မှာဖြစ်ဖြစ်လမ်းမှာဈေးမှာ ကျောင်းမှာ
ဘယ်နေရာမှာဖြစ်ဖြစ် လူကြီးမိဘ ဆရာသမားတွေ
ကိုယ့်ထက်အသက်ကြီးသူတွေကိုပေးတဲ့အခါသူတို့ဆီက
ယူတဲ့အခါ လက်နှစ်ဖက်နဲ့ပေးရ ယူရမယ်နော်
So it is the polite behaviour. Wherever you meet your parents and teachers you must do like that.

ဟုတ်ကဲ့ပါ
မမ
Yes, elder sister.

## ဟင်းချိုသောက်လျှင် အသံမမြည်စေရ

## Don't make noise when you drink soup

ဒီနေ့ဟာ ဟိန်းထက်အောင်ရဲ့မွေးနေ့မို့ ဟိန်းထက်အောင်တို့မောင်နှမတစ်စုဟာ ဘုန်းတော်ကြီးကျောင်းကို ဆွမ်းချိုင့်သွားပို့ကြပြီးတဲ့နောက် ဟိန်းထက်အောင်ရဲ့သူငယ်ချင်းတွေကို အိမ်မှာထမင်းဖိတ်ကျွေးတယ်။

That is Hein Htet Aung's birthday. So he and his sisters go to monastery to offer meal. Hein Htet Aung invites his friends and serves them at home.

သူ့သူငယ်ချင်း မောင်ငယ်၊ သက်သက်နဲ့ ပြုံးချိုတို့ဟာ ဟိန်းထက်အောင်နဲ့အတူ အားပါးတရ တပျော်တပါး စားသောက်ကြတယ်။

His friend Maung Ngai, Thet Thet and Pyone Cho eat with him together.



မြင့်မိုရ်မေမေစာပေ

ဟိန်းထက်အောင်ရဲ့မိခင် မြင့်မိုရ်မေမေက ကြက်သားဟင်း ထပ်ဖြည့်ပေးရင်း မေးလိုက်တယ်။

Hein Htet Aung's mother Myint Mo May May, while she fills the chicken curry asks them.







ကြာရိုးဟင်းခါးကို တရှူးရှူး ခပ်သောက်နေတဲ့ မောင်ငယ်ကိုကြည့်ပြီး မြင့်မိုရ်မေမေက ပြုံးလိုက်တယ်။

Myint Mo May May smiles when she sees Maung Ngai drinks the soup prepare with lotus stalk.




အေး အေး သားတို့
စားလို့သောက်လို့
ကောင်းတယ်ဆိုလို့ အန်တီ ဝမ်းသာ
ပါတယ်ကွယ်၊ ဒါထက် သားတို့ကို
အန်တီ တစ်ခုသတိပေးရဦးမယ်ကွဲ့.
I'm very happy if you have good taste. But I've to warn you.


ဟင်းရည်ကို သောက်တဲ့အခါ
ပါးစပ်နဲ့စုပ်သောက်တဲ့အသံ တရှူးရှူး မမြည်
စေရဘူးကွဲ့၊ ဟင်းရည်ကို အသံမြည် အောင်သောက်
ရင်အခြားစားသောက်နေသူတွေကို စိတ်အနှောင့်အယှက်
ဖြစ်စေတယ် သားတို့ရဲ့
If you drink the soup, don't let the noise. Drink it silently. So it won't disturb the others.


ဒါကြောင့် ဟင်းရည်
သောက်တဲ့အခါ အသံ
မမြည်အောင် သောက်ကြ
ရမယ်နော်
So if you drink soup, don't let the noise to be heard.
ဟုတ်ကဲ့ပါ
အန်တီ
Yes, aunty.



# ဟင်းချက်ကို လက်နှင့်မနှိုက်ရ

## Don't take curry with bare hand

မနက်ပိုင်း ကျောင်းတက်ပြီးလို့ ပြန်လာကြတဲ့ မေမြတ်နိုး ဟိန်းထက်အောင်နဲ့ နဒီတို့ မောင်နှမ တတွေဟာ အိမ်ရောက်တာနဲ့ ထမင်းစားပွဲမှာထိုင်ပြီး ထမင်းစားဖို့ ပြင်ကြတော့တယ်...

After the morning class is over, Mai Myat Noe, Hein Htet Aung and Nadi, as soon as they arrive at home, they prepare to eat the meal.











မောင်နှမသုံးယောက် ဗိုက်ဆာဆာနဲ့ အလုအယက် စားသောက်နေကြတဲ့ ထမင်းဝိုင်းနားဆီ မြင့်မိုရ်မေမေ ရောက်ရှိသွားတော့တယ်။

Their mother Myint Mo Mai Mai comes and watches their lunch.



ဟိန်းထက်အောင်ဟာ ထမင်းဆာဆာနဲ့ အားပါးတရ စားနေတာမို့ သူ့ရဲ့မိခင် အနား ရောက်နေတာကို သတိမပြုမိဘူး။ သူဟာ ဟင်းပန်းကန်ထဲက ဝက်သားတုံးကို လက်နဲ့ နှိုက်ပြီး စားလိုက်ပါတယ် ...

Hein Htet Aung, as he is too hungry, he does not notices his mother. He takes the pork curry with his bare hand.





ဟင်းခွက်ထဲကို ဘာဖြစ်လို့ လက်နဲ့နှိုက်ရတာလဲကွ၊ ဟင်းကိုလက်နဲ့မနှိုက်ရဘူးလေ၊ ဇွန်းနဲ့ခပ်မှပေါ့
Why do you take out the curry with your bare hand? Take the curry with the spoon.

အဲ ဟုတ် ဟုတ်ကဲ့
Oh! Yes.

ဟင်းခွက်ထဲ လက်နဲ့နှိုက်တာဟာ အင်မတန်မယဉ်ကျေးတဲ့အပြုအမူပဲ၊ ဟင်းခွက်ထဲမှာ ခပ်ယူဖို့ ဇွန်း တပ်ပေးထားတာ ဇွန်းနဲ့ခပ်မှပေါ့
Snatching the curry with the bare hand is very bad behaviour. There's a spoon. Use with it.

သူတစ်ပါး ဟင်းခပ်ယူနေရင် ခဏစောင့်ပြီး ကိုယ်ကခပ်ယူပေါ့၊ နောက်ကို အဲဒီလို မလုပ်ရဘူးနော်
When someone takes the curry, you must wait your turn. Don't do like that again.

ဟုတ် ဟုတ်ကဲ့ပါ မေမေ
Yes, mother.

## ကျောင်း၌ယဉ်ကျေးခြင်း

## Politeness at school

### ကျောင်းသို့အချိန်မှန်မှန် ရောက်ရမည်၊နောက်ကျရောက်လျှင် ခွင့်တောင်းရမည်

### You must be at school regularly









စာသင်ခန်းရှေ့ရောက်တော့ ဆရာမက ရောက်နှင့်နေပါပြီ၊ သူက စာသင်ခန်းထဲမဝင်သေးဘဲ စာသင်ခန်းအဝကနေ ဆရာမကို ခွင့်တောင်းလိုက်ပါတယ် ...

When he gets to his class, the teacher is already teaching now. He stands outside the class and asks permission to enter.

ဆရာမ ကျွန်တော့်ကို ဝင်ခွင့်ပြုပါ ခင်ဗျာ

Please excuse me teacher, may I come in?

အေး အေး ဝင် ဝင် ဘာဖြစ်လို့ ကျောင်းနောက်ကျရသလဲ မောင်ဟိန်းထက်အောင်

Yes, why do you late today Maung Hein Htet Aung?



ညက စာကျက်တာ
ညဥ့်နက်သွားပြီး အိပ်ရာထ
နောက်ကျသွားလို့ပါ ဆရာမ
Last night, I studied the
lesson lately.

အေး အေး ဘယ်လိုအကြောင်း
ကြောင့်ပဲဖြစ်ဖြစ် ကျောင်းနောက်မကျ
သင့်ဘူးကွဲ့၊ နောက်ကို ကျောင်းနောက်
မကျစေနဲ့၊ ကျောင်းသားကျောင်းသူဆိုတာ
စာသင်ခန်းထဲအချိန်မှန်မှန် ရောက်ရမယ်ကွဲ့.
Don't give any reason.
You must attend the class
regularly and punctually.

ဟုတ်ကဲ့ ဆရာမ၊ နောင်ကို
နောက်မကျစေရပါဘူး
ခင်ဗျာ
Yes, teacher, I won't
be late next time.

စာရွက်ကိုဖွင့်လျှင် တံတွေးဆွတ်၍ မဖွင့်ရ စာရွက်ထောင့်ကဖွင့်ရမယ်

Don't open the book by using the saliva

စာရွက်ကိုခေါက်ချိုး၍မမှတ်နှင့် စာရွက်လွတ်တစ်ချပ်ကြား ညှပ်၍ထားရမယ်

Don't fold the paper to mark the page

မေမြတ်နိုးတို့အတန်းပိုင်ဆရာမက ဒီနေ့ သင်ခန်းစာအသစ်တက်ရမှာမို့ ပြဋ္ဌာန်းစာအုပ်ကို ထုတ်ရိုင်းလိုက်တယ်။

The class teacher, opens the prescribed book to teach them the new lessons.




မေမြတ်နိုးတို့လည်း လွယ်အိတ်ထဲကနေ သမိုင်းစာအုပ်ထုတ်လိုက်ကြပြီး စာအုပ်ကို စားပွဲပေါ်တင်ကာ စာမျက်နှာနံပါတ်(၃၅) ကို လှန်ကြတော့တယ်။

Ma? Myat Noe take out the history book from her bags and opens the page 35.







စာရွက်ကိုလှန်တဲ့အခါ စာရွက်က ကပ်နေလို့ မေမြတ်နိုးက စိတ်မရှည်တော့ဘဲ လက်ညှိုးကို တံတွေးဆွတ်ပြီး ...
As the pages are stuck together May Myat Noe is out of patience and she soaks her tip of finger with the saliva.


စာရွက်ကို လှန်တော့တယ်။
Then turns the page.


အို အို မေမြတ်နိုး စာရွက်ကို တံတွေးနဲ့ဆွတ်ပြီး မလှန်ရဘူးကွဲ့၊ စာရွက်ရဲ့အောက် ထောင့်ကနေ တစ်ရွက်ချင်း လှန်ရတယ်..
Oh! May Myat Noe, don't use the saliva to turn the page. Turn it from the lower corner of the page.


စာရွက်ကို တံတွေးဆွတ်ရင် စာရွက် စိုပြီး စုတ်ပြဲနိုင်သလို စာရွက်မှာ ကပ်နေတဲ့ ဖုန်ထဲကနေ ရောဂါဖြစ်စေတဲ့ ဘက်တီးရီးယားပိုးတွေ လက်မှာကပ် ပါလာပြီး လျှာကတစ်ဆင့် ဝမ်းထဲဝင် သွားရင် ရောဂါရတတ်တယ်ကွဲ့.
If you touch the paper with saliva, it will tear apart. And the bacteria will stick your hand and it goes through your tongue.

ဒါကြောင့်
တပည့်တို့အားလုံး
မှတ်ထားကြရမယ်နော်၊ စာအုပ်ကို
ဖွင့်ပြီး စာရွက်ကိုလှန်ရင် လက်ကို
တံတွေးဆွတ်ပြီး စာရွက်မလှန်ရဘူး။
စာအုပ်ရဲ့အောက်ထောင့်ကနေ
တစ်ရွက်ချင်းလှန်ရမယ်
All the pupil, if you open the page don't use your saliva. Turn it from the lower corner of the page.

ပြီးတော့
စာအုပ်ကိုဖတ်ပြီး
ပြန်ပိတ်တဲ့အခါ ကိုယ်ဖတ်မှတ်
ရင်းရောက်နေတဲ့နေရာကို မှတ်
သားလိုရင် စာရွက်ကိုချိုးခေါက်
မှတ်သားတာမျိုး မလုပ်ရဘူး။
စာအုပ်နာတတ်တယ်
If you want to mark the page, don't fold page.

ဒါကြောင့် စာရွက်လွတ်လေး
တစ်ခုခုနဲ့ ညှပ်ပြီးမှတ်ရမယ်
ဟုတ်ပြီလား
So tuck a piece of paper to mark this page.

ဟုတ်ကဲ့ပါ
ဆရာမ
Yes, teacher.



## ရွှင်ကြည်သောမျက်နှာအမူအရာ ရှိရမည် လူငယ်အချင်းချင်း သင့်တင့်စွာ နေရမည်

You must have smiling facial expression

ဟိန်းထက်အောင်ဟာ အလိုမကျရင် မျက်နှာကိုစူပုပ်ထားလေ့ရှိတယ်။

When Hein Htet Aung is dissatisfy with something, his facial expression is sullen.

ဟဲ့သား
မျက်နှာရှစ်ခေါက်ချိုးနဲ့
ဘယ်လိုများဖြစ်
နေတာတုန်း

Son, why your facial expression is sullen?

မေမေ့သားကို ဖေဖေက
တံမြက်စည်းလှည်းခိုင်းလို့
မေမေ စောစောစီးစီးအလုပ်
လုပ်ခိုင်းလို့ မျက်နှာ
စူပုပ်နေတာ

Daddy asks him to sweep in the early morning.

သားကလည်းကွယ်
မနက်အိပ်ရာကနိုးပြီးတဲ့နောက် မျက်နှာသစ်ပြီး
တာနဲ့ ကိုယ်လုပ်နိုင်တဲ့အိမ်အလုပ်တွေကို ဝိုင်းကူလုပ်
ရမယ်လေကွယ်၊ မိဘခိုင်းတာကို မငြိုငြင်ရဘူးကွဲ့၊
တံမြက်စည်းလှည်းတာများ ဘာပင်ပန်းတာမှတ်လို့

You must help the household works as possible as you can. Don't be silly with parents.

မျက်နှာစူပုပ်နေတော့ အိမ်မှာကျက်သရေမရှိပါဘူး ကွယ်၊ ပြုံးပြုံးရွှင်ရွှင်နေစမ်းပါ ဟုတ်ပြီလား
The sullen facial expression is ignominious for the family. So live with smiling and shining face.

ဟုတ်ပါရဲ့ မေမေရယ်၊ ကိုကို့ မျက်နှာကြီးစူထားတာ ကြည့်လို့ မကောင်းပါဘူး၊ ဝက်ဖင်ကြီး ကျနေတာပဲ ဟီ ဟီ
Yes, his sullen and wrinkle face is just like the rump of the pig.

နဒီ နင်နော် ဘာ ဝက်ဖင်လဲ ငါထုလိုက်ရ
Don't talk like that. I'm going to beat you.

အို တူလို့ တူတယ် ပြောတာပဲ
Because it resemble like that.

ငါ တယ်
I want to beat you.

ဟဲ့ ဟဲ့ မောင်နှမချင်း သင့်တင့်အောင်နေကြလေ၊ လူငယ်အချင်းချင်း အချင်းမများရဘူးကွဲ့၊ သင့်တင့်အောင်နေရမယ် သားတို့သမီးတို့ရဲ့၊ ဒါမှ အိမ်ဟာ သာယာအေးချမ်းမှာပေါ့ကွယ်

Be familiar with your siblings, and don't quarrel with your friends. So it will become a fine family

ဟုတ်ကဲ့ပါ မေမေ၊ သမီးတို့ သင့်တင့်အောင်နေပါ့မယ်၊ နောင်ကို ဝက်ဖင်နဲ့တူလည်း တူတယ်လို့ မပြောတော့ပါဘူး

Yes, mother, next time, I won't remark him as the rump of pig

ဒါ တယ်လေ

You're talking like that again

ခစ် ခစ် ခစ်

Kheet! Kheet!


မြင့်မိုရ်မေမေစာပေ

# အတန်းထဲတွင် စကားမများရ ငြိမ်သက်စွာ နေရမည်

Don't be a talkative in the class-room

မမြတ်နိုးတို့အတန်းထဲက ကျောင်းသူ မြမြကျင်နဲ့တင်တင်ရီတို့ဟာ အင်မတန် စကားများကြသလို ...

In the class-room, Mya Mya Kyin and Tin Tin Yi are very talkative.







ကျောင်းသားလေးတွေဖြစ်တဲ့ မောင်မျိုးဝင်းနဲ့မောင်ဝင်းဖေတို့ဟာ လည်း တစ်ယောက်ကိုတစ်ယောက် တွန်းထိုးဆော့နေကြတယ်။

The schoolboys Maung Myo Win and Maung Win Pe are kidding and teasing each other.





သင်္ချာဆရာမက ကျောက်သင်ပုန်းပေါ်မှာ ပုစ္ဆာတစ်ပုဒ်ကို တွက်ပြနေတဲ့အချိန်မှာ မြမြကျင်နဲ့ တင်တင်ရီ ဟာ စကားတွတ်ထိုးနေကြသလို ...

While the mathematics teacher is instructing, Mya Mya Kyin and Tin Tin Yi are still talking.




မောင်မျိုးဝင်းနဲ့မောင်ဝင်းဖေကလည်း တစ်ယောက်ခေါင်းကိုတစ်ယောက် ပုတ်ပြီးဆော့နေကြတုန်း၊ ဒါကို သတိပြုမိသွားတဲ့ဆရာမက ဆူပါလေရော ...

Maung Myo Win and Maung Win Pe are still kidding. So the teacher scolds them.





ဆရာ ဆရာမတွေ စာသင်
နေတဲ့အချိန်မှာ စကားများတာ၊
လှုပ်လှုပ်ရွရွနဲ့ဗရုတ်ကျတာဟာ
ဆရာ ဆရာမကို မလေးစားရာ
ကျတယ်ကွဲ့.

It is an impolite behaviour in teasing and talking while the teacher is instructing.

ပြီးတော့
သင်ကြားတဲ့သင်ခန်းစာတွေကို
လည်း လိုက်လံမမှတ်သားမိတဲ့အတွက်
စာမရတာမျိုးဖြစ်တတ်တယ်

Moreover, you can't understand well when you don't pay attention to the teaching.

ဒါကြောင့် ကျောင်းသား
ကျောင်းသူတွေဟာ စာသင်ခန်း
ထဲမှာ စကားမများရဘူး၊ ငြိမ်
ငြိမ်သက်သက်နေရမယ်ဟုတ်ပြီလား

So the schoolchildren must not talk and play while the teacher is instructing.

ဟုတ်ကဲ့ပါ
ဆရာမ
Yes teacher.



## အခြားကျောင်းသားများအား မည်သို့မျှ အနှောင့်အယှက်မပြုရ

Do not disturb the other students












မြားအပစ်ခံရတဲ့ ကျောင်းသူ
တွေက လှည့်ကြည့်ရင် မောင်
ငယ်နဲ့ပြုံးချိုက မသိဟန်ဆောင်
နေလိုက်ကြတယ်။
When the girl who is hit by
paper-arrow looks back Maung
Ngai and Pyone Cho pretend
that they don't know it.
တောက် ခဏ ခဏ
အနှောင့်အယှက်ပေးကြတယ်နော်
ဆရာမနဲ့ကို တိုင်ပြောမယ်
I am disturbed very often.
I'll report about it the
teacher.


ဆတ်ဆတ်ထိမခံတဲ့ ကျောင်းသူလေး
နွဲ့နွဲ့က ဆရာမကို သွားတိုင်ပါရော...
The very sensitive Nwe Nwe
reports about it to teacher.


ဆရာမ လိုက်လာပြီး
ဆူတော့တယ် ...
The teacher enters
and scold the pupil
in the class.



စာသင်ခန်းထဲမှာဖြစ်ဖြစ်
ကျောင်းဝင်းထဲ ဘယ်နေရာမှာ
ဖြစ်ဖြစ် ကျောင်းသူကျောင်းသား
ချင်း အနှောင့်အယှက်ဖြစ်စေမယ့်
အပြုအမူမျိုး မပြုမူရဘူးကွဲ့.
Wherever you are in school or out, don't disturb the others.

ကိုယ်ပျော်ဖို့ စိတ်ချမ်းသာဖို့
သူတစ်ပါးကို စိတ်အနှောင့်အယှက်
ဖြစ်အောင်ပြုမူခြင်းဟာ လူယဉ်ကျေး
တွေရဲ့အပြုအမူမဟုတ်ဘူး
For the sake of teasing, don't disturb the others. That isn't the behaviour of polite person.

ဒါကြောင့် အခြား
ကျောင်းသူကျောင်းသားတွေ
ကို အနှောင့်အယှက်မပြုကြ
ပါနဲ့တော့ တပည့်တို့
So do not disturb the other classmate.

ဟုတ် ဟုတ်ကဲ့ပါ
ဆရာမ
Yes, teacher.



## စာအုပ်စာရေးကိရိယာများကို ရိုသေစွာကိုင်တွယ်ပါ
## ညစ်ညမ်းအောင် ပျက်စီးအောင်မပြုလုပ်ရ

Use carefully to your text books

တပည့်တို့လူတွေဟာ မိမိနဲ့ ပတ်သက်ဆက်နွယ်နေတဲ့ ပစ္စည်းပစ္စယတွေကို ကိုင်တွယ်သုံးစွဲတဲ့ နေရာမှာ စည်းကမ်းရှိရမယ်၊ ရိုသေရမယ် တန်ဖိုးထားရမယ်ကွဲ့.
Schoolchildren, everbody must handle with his property very carefully.

အဲဒီပစ္စည်းပစ္စယတွေဟာ ကိုယ့်ကို အထောက်အကူပြုနေတဲ့ အရာတွေပဲ ဒါကြောင့် သူတို့ကို ပစ္စလက်ခတ်ကိုင်တွယ်သုံးစွဲတာမျိုး
Those properties are useful and support his living. So use them with care.

စိတ်မထင်ရင် မထင်သလို ဖျက်ဆီးတာမျိုး မလုပ်သင့်ဘူးကွဲ့.
Don't destroy those properties when you are annoyed.




လက်သမားဆရာဟာ သူ့ရဲ့ အလုပ်ခွင်ဆိုင်ရာကိရိယာ ဆူး ဆောက် ရွေဘော် လွှ စတာတွေ ကို ရိုရိုသေသေ ကိုင်တွယ်ရမယ်
The carpenter must use his implements such as saw, chisels ....


လယ်သမားဟာ သူ့ရဲ့ထွန်တုံး ထွန်တံ ထွန်စက် စတာတွေကို ဂရုတစိုက် ကိုင်တွယ်သုံးစွဲသင့်တယ်
A farmer must use his plough, harrows with great care.


ဒီလိုပဲ ပညာသင်ကြားနေကြတဲ့ ကျောင်းသူကျောင်းသားတွေဟာ မိမိစာသင်ကြားရာမှာ အများကြီး အထောက်အကူပြုတဲ့ ခဲတံ ဘောပင် ပေတံ စတဲ့စာရေးကိရိယာတွေနဲ့စာအုပ်တွေကို ရိုရိုသေသေ ကိုင်တွယ်သုံးစွဲရမယ်ကွဲ့.
Similarly, the schoolchildren must take care to their stationaries, and prescribed text books.
စာအုပ်တွေကို ညစ်ပတ်အောင်တော့ ပစ်စလက်ခတ် မကိုင်တွယ်ပါနဲ့ကွယ်
Don't use the text books, exercise books, casually. and dirtily



စာအုပ်တွေကို
ရိုရိုသေသေ ကိုင်တွယ်ရင်
ဟောင်းနွမ်းပျက်စီးမှု မရှိဘဲ
နောက်နှစ်အတန်းတက်လာမယ့်
ညီငယ်ညီမငယ်တွေကို လက်ဆင့်ကမ်း
ပေးနိုင်တာပေါ့၊ အားလုံးသဘောပေါက်ရဲ့လား
If you use those properties, you will be able to give who passed the promotion exam. Do you understand?

ဟုတ်ကဲ့ သဘောပေါက်ပါတယ်
ဆရာမသားတို့သမီးတို့ ဒီနေ့ကစပြီး
စာအုပ်နဲ့ စာရေးကိရိယာတွေကို ရိုရိုသေသေ
ကိုင်တွယ်သုံးစွဲပါတော့မယ် ဆရာမ
Yes, teacher, we will use our stationaries and text books.



## တစ်ယောက်နှင့်တစ်ယောက် ငြင်းခြင်း၊ လှောင်ခြင်းသရော်ခြင်း၊ ရန်စခြင်း မပြုရ

Don't be quarrelsome to each other




ဒါကြောင့် လပတ်စာမေးပွဲတွေမှာ အဆင့်က အောက်ဆုံးမှာချည်းပဲ..

So in monthly exam, their positions are in lower position.




ဒီတော့ စာကြိုးစားလို့ အတန်းထဲမှာ အမြဲ ပထမရတဲ့ ဟိန်းထက်အောင်ကို မနာလို ဖြစ်ကြပါရော ...

So they are jealous of Hein Htet Aung who get first in position.



အလကားပါကွာ
ဆရာ ဆရာမတွေကို ဖားလို့
ပထမရတဲ့ကောင်ပါ
Nonsense! He gets position first because he does his teacher's favour.

ဟုတ်ပါရဲ့ ပုံစံကိုက
ကြည့်ပါလား။ ကြောင်
သူတော် ကြွက်သူခိုးပုံ
Yes, his figure seems hypocrite.

ဟေ့ကောင် ဟိန်းထက်
အောင် ငဖား
Hey! Hein Htet Aung, you are seeking favour.

ဇော်မိုးနဲ့ဖြိုးလူတို့က ဘယ်လိုပဲလှောင်ပြောင်သရော် ရန်စပေမယ့် ဟိန်းထက်အောင်က သည်းခံတယ်၊ ဘယ်လိုမှ မတုန့်ပြန်ဘူး။ ဒါပေမဲ့ သူတို့ဘက်က မခံနိုင်တဲ့ ကျောင်းသူကျောင်းသားတွေ သွားတိုင်လို့ ဆရာမက အဲဒီအကြောင်းတွေသိသွားတယ်၊ ဒါကြောင့် အတန်းထဲမှာ ဆရာမက ဆုံးမစကားပြောတော့တယ်

However, they mock at him, Hein Htet Aung tolerates. But other schoolchildren report about it to the teacher. So the teacher admonishes the schodchildren.




တပည့်တို့ မင်းတို့ဟာ ဒီကျောင်းတော်ကြီးက ပညာရင်နို့ကိုအတူတူသောက်စို့နေကြတဲ့ ညီအစ်ကိုမောင်နှမတွေပဲဖြစ်တယ်
Pupil, all of you are learning in this school. You're siblings of this school.
ဒါကြောင့် အချင်းချင်းလှောင်ပြောင်သရော်ရန်စတာမျိုး မပြုလုပ်သင့်ဘူး
So don't laugh at and tease each other.
သူတစ်ပါးကို စိတ်ဆင်းရဲထိခိုက်အောင် လုပ်ရင် ကိုယ်ပဲပြန်ပြီး စိတ်ဆင်းရဲ ထိခိုက်တတ်တယ်၊ ဒါကြောင့် အဲဒီမကောင်းမှုကို ရှောင်ကြပါ
If you disturb the others, you'll be disturbed in any way. So refrain from doing so.
ဆရာမရဲ့ဆုံးမစကားကြောင့် ဇော်မိုးနဲ့ဖြူးလူတို့လည်း နောင်တရသွားကြတော့တယ် ...
Because of the admonishing of teacher, Zaw Moe and Phyu Lu are repented.
နောက်ကို ငါတို့ ဘယ်သူ့ကိုမှ သရော်လှောင်ပြောင်ရန်စတာမျိုး မလုပ်ကြတော့ဘူး
Next time, we won't laugh at anyone.

## ကျောင်းသားသစ်များကို ကူညီရမည်
## ငယ်သောကျောင်းသားကိုလည်း စောင့်ရှောက်ရမည်

Help the newly enrolled schoolchildren









ငါ ငါက မင်းတို့ထက် အသက်ငယ်ပြီး အရပ်ပုတော့ ဆရာမကျောက်သင်ပုန်းပေါ်မှာ ရေးတာတွေ မမြင်ရလို့ပါကွာ၊ ဒါကြောင့် ဒီရှေ့မှာ ထိုင်ပါရစေ
I am not only younger than and shorter than you. So the teacher places me at the front row.

လျှာရှည်လိုက်တဲ့ကောင် မလိုချင်ဘူး သွား
You're too talkative. Move to the back row.

မသွားသေးဘူးလား တောက် ငါထိုးလိုက်ရ
Don't you move to back row? I'll hit you right now.

ဇော်မိုး ဇော်မိုး အဲဒီလို မလုပ်ပါနဲ့ကွာ၊ သူ့အရပ်နဲ့ မမြင်ရလို့ ရှေ့ခုံတန်းမှာ ထိုင်တဲ့ဟာ ထိုင်ပါစေကွာ
Zaw Moe, don't do like that. He is shorter than we are. So let him sit at the front row.

ငါတို့ဟာ ကျောင်းသားကျောင်းသူ
အသစ်တွေ ငါတို့ကျောင်း၊ ငါတို့အတန်းဆီ
ရောက်လာတာကို ပျူပျူငှာငှာ လှိုက်
လှိုက်လှဲလှဲ ကြိုဆိုသင့်တယ်ကွ၊
သူတို့ကို ကူညီသင့်တယ်
We must welcome the new comer in our classroom warmly.

ပြီးတော့ ငယ်ရွယ်တဲ့
ကျောင်းသားလေးတွေအပေါ်လည်း
အနိုင်မကျင့်သင့်ဘဲ ညီရင်းအစ်ကို စိတ်ဓာတ်
မျိုးနဲ့ကူညီစောင့်ရှောက်ပေးမသင့်တယ်ကွ
And we had to help the younger student as your own younger brother.

အေးပါကွာ ငါမှားသွားတယ်
ဟိန်းထက်အောင်၊ နောင်ဆို
ကျောင်းသားသစ်တွေကိုကူညီမယ်
ကျောင်းသားငယ်တွေကိုလည်း
စောင့်ရှောက်ပါ့မယ်ကွာ
Yes, Hein Htet Aung, I've done wrong. Next time, I'll help the new comers.



## လမ်း၌ယဉ်ကျေးခြင်း

Behave politely on the way

### လမ်းသွားစဉ် ကျယ်လောင်စွာ စကားမပြောရ

Don't talk loudly on the way

တချို့လူတွေဟာ လမ်းသွားရင်းနဲ့ စကားကို အကျယ်ကြီးပြောလေ့ရှိကြတယ် ...

Some of the people are in the habit of talking loudly while they are walking on the way.

ဟာဗျာ အာဂျင်တီးနားအသင်းမှာ ဒီမာရီယာမပါလို့ ရှုံးရတာဗျ၊ ဒီမာရီယာ သာပါရင် မက်ဆီက ဖန်တီးပေးပြီး ဒီမာရီယာက ဂိုးသွင်းနဲ့ ကမ္ဘာ့ဖလားကြီးကို အာဂျင်တီးနား ရမှာဗျ

The Argentina soccer team lost because De Maria is not in it. If he is still in this team, it can get World Cup.

တော်စမ်းပါဗျာ ရှုံးရင် ရှုံးတယ်ပေါ့၊ ဂျာမနီက ကမ္ဘာ့ဖလားနဲ့ထိုက်တန်လို့ ရသွားတာဗျ

No, the Germany Soccer team is more smart and it deserves to World Cup.

မတန်ပါဘူး ဘယ်က တန်ရမှာလဲ

It doesn't deserve to get it.



မမမေမြတ်နိုး အဲဒီလူတွေ
စကားပြောတာ အကျယ်ကြီးပဲနော်၊
လမ်းဘေး အိမ်ထဲက လူတွေတောင်
ရန်ဖြစ်တယ်ထင်ပြီး အလန့်တကြားနဲ့
ထွက်ကြည့်ကြတယ် ...
Sister Mai Myat Noe, they talk loudly as if they are quarrelling on the way.

ဒါကြောင့်
မေမေက အမြဲ မမတို့ကို
ဆုံးမတာပေါ့ မောင်လေးဟိန်းထက်
အောင်ရဲ့ လမ်းသွားရင်းစကားပြောရင်
ကျယ်ကျယ်လောင်လောင် မပြောရ
ဘူးတဲ့၊ ယဉ်ကျေးမှုရှိရမယ်တဲ့
So our mother admonishes that don't talk loudly on the way. We must behave politely.

ဟုတ်တယ်နော် ယဉ်ကျေးတဲ့သူ
တွေဆို လမ်းသွားရင် အဲဒီလို
စကားအကျယ်ကြီးမပြောကြဘူး
Yes, the polite people don't talk loudly on the way.

## လမ်း၌ရပ်၍ စကားပြောလျှင် လွတ်ရာသို့ရှောင်၍ ပြောရမည်

## If you have to talk on the way, move to sideway

## ဝန်လေးသယ်ဆောင်လာသူအား မိမိက ရှောင်ဖယ်ပေးရမည်

## We must give favour to those who shoulder the heavy burdens

မေမြတ်နိုးတို့သူငယ်ချင်းတစ်စု ကျောင်းက အပြန်လမ်းခွဲကားနီးအထိ ပြောလက်စ စကား ကမပြတ်ကြဘူး ...

Mai Myat Noe and her friends are chatting along the way when they return from school.

ဟယ် ငါတို့ကျောင်းကို အခုပြောင်းလာတဲ့ ဆရာမ လေးက ချောလိုက်တာနော် အိချောပို့နဲ့တူတယ်

The new female teacher who transfer from other school is very beautiful.

အမယ် စံရတီမိုးမြင့်နဲ့ တူတာပါနော်

She looks like San Rati Moe Myint.



ဒီမှာ ဒီမှာ ကလေးမတို့
စကားပြောရင် လမ်းဘေး
ကပ်ပြီး လွှတ်ရာနေရာမှာ
ပြောကြပါလားကွယ်

Hey! Girls, if you want to talk on the way please move to sideway.

စုလို့ အုပ်စုလိုက်ကြီး
လမ်းမှာရပ်ပြီး စကားပြော
နေကြတော့ အခြားလမ်းသွား
လမ်းလာတွေအတွက်
သွားရလာရ ခက်တာပေါ့ကွယ်

If you are chatting in group on the way, other people will be in difficulty.

ဪ ဟုတ်ကဲ့ ဟုတ်ကဲ့
ဦးလေး သမီးတို့ သတိလွှတ်
သွားလို့ပါ၊ ဟို ဟို
စံရတီမိုးမြင့်ကြောင့်

Oh! Yes, uncle, we forgot about it. It's because of San Rati Moe Myint.

အီချောပိုကြောင့်ပါဟယ်
ခစ် ခစ် ခစ်

It's because of Ei Chaw Po. Kheet! Kheet!









ဒီလိုနဲ့ ဆန်အိတ်သယ်လာသူကို မေမြတ်နိုးတို့သူငယ်ချင်းတစ်စုက ရှောင်ဖယ်ပေးလိုက်ကြတယ် ...

They give way to a man who is shouldering a rice bag.



ထီး တုတ် စသည်တို့ကို ယူဆောင်သွားပါက
အချွန်ဘက်ကို အောက်သို့စိုက်ကာ
ကိုင်ဆောင်ရမည်။

If you carry an umbrella or a stick keep its sharp tip downward

တစ်ဦးတစ်ယောက်အား မတော်တဆ ထိခိုက်မိ
လျှင် ယဉ်ကျေးစွာ တောင်းပန်ရမည်

If you bump against other, you must ask for his pardon.




သူတို့မိသားစု ဘုရားသွားဖို့ ဘတ်စ်ကားစီးကြတော့ ဟိန်းထက်အောင်ကိုင်လာတဲ့ ထီးဟာ ဘတ်စ်ကားပေါ်မှာ ဟိုလူ့ထိုးမိ ဒီလူ့ထိုးမိ ဖြစ်နေတော့တယ် ...

They go there with line-bus. On this passenger bus, the umbrella which is held by Hein Htet Aung touches and tucks to other passengers.






မြင့်မိုရ်မေမေ လှည့်ကြည့်လိုက်တော့ သားဖြစ်သူ ဟိန်းထက်အောင်က ထီးအရှည်ကို ထောင်ကိုင်ထားတာ သတိပြုမိသွားတယ် ...

When Myint Mo Mai Mai looks at him and she sees Hein Htet Aung carries the umbrella passes on his shoulder.








ပြီးရင် ကိုယ့်ကြောင့် တိုးမိတိုက်မိသူတွေကို တောင်းပန်ရမယ်၊ ဒါမှ ယဉ်ကျေးတဲ့သူဖြစ်မှာပေါ့

If you've touched to other you must ask for pardon. That's the polite behaviour.

ဟုတ်ကဲ့ မေမေ

Yes, mother.

အန်တီ မတော်တဆထိမိတာကို သားတောင်းပန်ပါတယ်ဗျာ၊ ခွင့်လွှတ်ပါ၊ နောက်ထပ်မဖြစ်စေရပါဘူး

Aunty, it is an accident. I beg your pardon.

အေးပါကွယ် အေးပါ အန်တီခွင့်လွှတ်ပါတယ်၊ သားက အင်မတန်ယဉ်ကျေးတဲ့ကလေးပါပဲ

Yes, I excuse you. You're very polite child.



ရဟန်းသံဃာတော်များ သူအိုများ မိန်းမကိုယ်ဝန်ဆောင်သည်များနှင့်
ကလေးသူငယ်များကို မိမိက လမ်းဖယ်ပေးရမည်။ ကား-ရထား
သင်္ဘောပေါ်၌ တွေ့ကြုံလျှင်လည်း နေရာပေးရမည်။

You must give way and your seat when you meet monks, elderly people and pregnant woman

မြင်းမိုရ်မေမေက ဆုံးမထားတဲ့အတွက် သားသမီးတွေဖြစ်တဲ့ မေမြတ်နိုး ဟိန်းထက်အောင်နဲ့ နဒီတို့ဟာ လမ်းသွားရင်း လမ်းမှာ ရဟန်းသံဃာတော်တွေ လူအိုတွေ ကိုယ်ဝန်ဆောင်သည်တွေကို ရင်ဆိုင်တွေ့ရင် လမ်းဖယ်ပေးကြသလို ...

As their mother Myint Mo Mai Mai has admonished, Mai Myat Noe, Hein Htet Aung and Nadi give way whenever they meet monks, old people and pregnant women.

ဟိုဘက်မှာ ဗွက်တွေနဲ့ မမတို့ဘေးကပ်ပေးလိုက် ကြစို့မောင်လေးနဲ့ညီမလေးတို့

There is a mud-flat over there. Let's give way to the monks.

ဟုတ်ကဲ့ ဒါမှ ဘုန်းဘုန်းတို့ ကြွသွားလို့ အဆင်ပြေမှာ

So the monks have easy accessible way.

ကိုယ့်ထက်ငယ်တဲ့ကလေးတွေကိုလည်း
ဦးစားပေးပြီး လမ်းဖယ်ပေးကြတယ်။

You must also give way to a child younger than you.




သူတို့သားသမီးတွေကို ဦးစားပေးတဲ့အတွက်
ကလေးမိဘတွေက မေမြတ်နိုးတို့ကို ချီးကျူး
ကြ ကျေးဇူးတင်ကြတယ် ...

The parents of the children praise them for they give way to their children.








ဘတ်စ်ကားပေါ်မှာ ကိုယ်ကထိုင်စရာနေရာ ရထားတဲ့အချိန် ရဟန်းတော်တွေ ကိုယ်ဝန်ဆောင်သည်တွေ အသက်ကြီးဝါကြီး အဘိုးအဘွားတွေ ကားပေါ်တက်လာရင် မေပြတ်နိုးတို့ မောင်နှမတွေက နေရာ ဖယ်ပေးကြတယ် ...

When you meet monks, old people and pregnant women, you must give your seat on the line-bus.












လမ်းပေါ်တွင် သစ်သီးခွံများ ပစ်မထားရ
[illegible]

Don't throw the peels of fruits and rubbish on the way

အမှိုက် စက္ကူစုတ် စသည်တို့ကို လမ်းပေါ်တွင်မပစ်ဘဲ
လမ်းဘေးရှိ အမှိုက်ပုံးများထဲသို့ ထည့်ပါ။

Don't discard the rubbish on the way and put them into the rubbish bin










ဟာ ငါ ငှက်ပျောခွံကို
လမ်းမပေါ် စည်းကမ်းမဲ့ပစ်မိတဲ့
အတွက် မောင်ငယ်တက်နင်းမိပြီး
ချော်လဲပြီ
Huh! I throw the peel of banana on the way casually, Maung Ngai treads on it and fall on his back.

မောင်ငယ် သူငယ်ချင်း
ငါစည်းကမ်းမဲ့လို့ မင်း ဒီလို
ချော်လဲရတာပါကွာ၊ ခွင့်လွှတ်ပါ
ငါ တောင်းပန်ပါတယ်
Excuse me Maung Ngai, I throw it casually. Because of my negligience.

ဟိန်းထက်အောင်
မောင်လေး ဒါကြောင့် မေမေက
ဆုံးမတာ၊ လမ်းမပေါ်ကို သစ်သီး
ခွံတွေမပစ်ရဘူးလို့
Our mother admonishers us not to throw the peel of fruits on the way.

မောင်လေး
မေ့သွားလို့ပါ
မမမေပြတ်နိုး
I forgot about it sister.

ကိုကို့ကို အိမ်ကျ
မေမေနဲ့တိုင်ပြောမယ်
I report about it to mommy.


နဒီက ပြောရင်း သကြားလုံးကို ပါးစပ်ထဲထည့်လိုက်ပြီး သကြားလုံးပစ်ထားတဲ့စက္ကူကို လမ်းပေါ် အမှတ်မဲ့ လွှင့်ပစ်လိုက်တယ်။
Nadi put candy into her mouth and throws wrap of candy on the way casually.


အဲ အဲ နဒီ ညီမလေးကလည်း စက္ကူစုတ်ကို လမ်းပေါ်မပစ်နဲ့လေ၊ ပြန်ကောက်ပြီးရင် ဟောဟိုက အမှိုက်ပုံးထဲသွားထည့်ချေ
Nadi, don't throw the paper on the way. Pick-up and put it into rubbish bin.


နဒီလည်း သူ့အမှားနဲ့သူမို့ လျှာလေးတစ်လစ်ထုတ်ပြီး စက္ကူအမှိုက်ကို ကောက်ကာ လမ်းဘေးက အမှိုက်ပုံးထဲ သွားစွန့်ပစ်လိုက်တယ်။
Because of her mistake, Nadi take out wrap-paper and put it into the rubbish bin.
အေး အဲဒီလို စည်းကမ်းရှိရင် အန္တရာယ်ကင်းပြီး လမ်းမလည်း သန့်ရှင်းသွားတာပေါ့ကွယ်
If you have discipline like this, it will clean the way and get out of harm's way.

လမ်းကိုဖြတ်ကူးလျှင် မော်တော်ကား - မီးရထား - ဆိုင်ကယ် - စက်ဘီး
စသည့် ယာဉ်အန္တရာယ်ကို သတိထားကြည့်ရှု၍ ကူးရမည်။
လူကူးမျဉ်းသတ်မှတ်ထားသောနေရာရှိလျှင် ထိုနေရာမှသာ ဖြတ်ကူးရမည်။

If you cross the road you must look left and right to get safety.

မေမြတ်နိုးတို့ရဲ့ကျောင်းဟာ တစ်ဖက်ရပ်ကွက်မှာရှိတဲ့အတွက် ကျောင်းသွားတဲ့အခါ ဘတ်စ်ကားတွေ ဥဒဟို သွားလာနေတဲ့ကားလမ်းမကြီးကို ဖြတ်ကူးသွားရမှာ ဖြစ်ပါတယ်...

When Mai Myat Noe and her siblings go to school they have to cross the road on which myriad of traffics are passing to and fro.

မမမေမြတ်နိုး လာလာ ကားရှင်းတယ်၊ ဖြတ်ကူးကြမယ်

It is clear now. Let's cross the road.

ဟဲ့ ဟဲ့ မောင်လေး မကူးနဲ့ ဟိုမှာ ဆိုင်ကယ်တစ်စီးလာနေတယ်

Don't! There is a cycle running towards us.

ဟာ မောင်လေးက ကားကိုပဲ သတိထားကြည့်နေမိတယ်၊ ဆိုင်ကယ်ကို သတိမထားမိဘူး

I notice only motor-car, not cycle.


ဒါကြောင့် မေမေက မမတို့ကို ခဏခဏ သတိပေးတာပေါ့၊ လမ်းဖြတ်ကူးတဲ့အခါ ယာဉ်အန္တရာယ်ကို သေချာ သတိထားကြည့်ရှုပြီးမှ ကူးရမယ်
So our mother used to warn us when we cross the road to safe from traffic accident.
လူကူးမျဉ်းကြားရှိရင် လူကားမျဉ်းကြားကနေ ယာဉ်အသွားအလာရှင်းမယ့်အချိန်ကို စောင့်နေကြတယ်
If there is a zebra crossing, we will wait and cross from it.
မေမြတ်နိုးတို့ဟာ လူကူးမျဉ်းကြားကနေ ဖြတ်ကူးဖို့ ယာဉ်အသွားအလာရှင်းမယ့်အချိန်ကို စောင့်နေကြတယ် ...
They wait at the zebra crossing until it clear the traffic.


ဒီလို လူကူးမျဉ်းကြားက ကူးရင်လည်း ယာဉ်အသွားအလာကို ဂရုမစိုက်ဘဲ တစ်ယောက်တစ်ပေါက် ပရမ်းပတာကူးတာမျိုး မလုပ်ရဘူးတဲ့
Even if you cross from zebra crossing, don't talk anything.
ကူးမယ့်သူနည်းနည်း များအောင်စောင့်ပြီးမှ တစ်စုတစ်ဝေး ကူးသင့်တယ်တဲ့၊ ဒါမှလည်း ကူးတဲ့ လူတွေလည်း ဘေးကင်းပြီး
Until there is many people and cross over it together.


ယာဉ်တွေလည်း မောင်းရတာ အဆင်ပြေမယ်တဲ့
So it will be convenient for the drivers.
အဲဒီနောက် မေမြတ်နိုးတို့ မောင်နှမတွေနဲ့ ကျောင်းသူ ကျောင်းသားတစ်စုဟာ မျဉ်းကြားကနေ ဘေးကင်းကင်းနဲ့ လမ်းဖြတ်ကူးကြတော့တယ်။
Then May Myat Noe and others cross the road from zebra crossing.

## လူကိုထိခိုက်အနာတရဖြစ်စေသော ခဲ-ဆူး-ခလုတ်-ပုလင်းကွဲ စသည်တို့ကို လမ်းပေါ်တွင်တွေ့ရှိလျှင် ဖယ်ရှားပစ်ရမည်

Discard thing that will harmful to the people

မေမြတ်နိုး ဟိန်းထက်အောင်နဲ့ နဒီတို့ မောင်နှမတစ်စုဟာ ဝတ်ကောင်းစားလှတွေဝတ်ပြီး သီတင်းကျွတ်မီးထွန်းပွဲတော်ကို လျှောက်ကြည့်ကြတယ် ...

Mai Myat Noe, Hein Htet Aung and Nadi, wearing best dresses and enjoys the Thadingyut light festival.

ဒီလမ်းမှာ ရောင်စုံမီးပုံးလေးတွေ ထွန်းထားတာ လှလိုက်တာနော်

Multi-coloured lanterns in this street are very beautiful to look at.

အေး ဟုတ်တယ်

Oh! Yes.

Err!

ဟဲ့ မောင်လေး ဟိန်းထက်အောင် ဘာဖြစ်လို့လဲ

What has happened to you, Hein Htet Aung?

ဒီလမ်းပေါ်မှာ ဆီးခက်တွေ အဲဒီဆီးခက်က ဆူးတွေစူးတာ

Thorny branches on the street. The thorns pierce my foot.






မေမြတ်နိုးတို့ မောင်နှမတွေ လမ်းပေါ်က ဆူးခက်တွေကို ဖယ်ရှားနေကြချိန်မှာပဲ အရက်သမားတစ်ယောက်ဟာ အရက်တွေ မူးပြီး လမ်းပေါ်မှာ ယိုင်ထိုးယိုင်ထိုး လျှောက်လာကြရင်း

While they were cleaning the thorny branch, a drunkard comes with faltering steps.



အရက်သမားတစ်ယောက်ပါလာတဲ့ အရက်ပုလင်းကို မော့သောက်လိုက်ရာက ခလုတ်တိုက်လဲတော့တယ်။

He drinks alcohol from the bottle and falls down.








ဟား ဟား ဟား လဲပြီ
မဟုတ်လား ပုလင်းပါကွဲသွားပြီ
ထ ထ သွားကြမယ်
You fall down now and your bottle has already broken. Come on.

အရက်သမားတစ်စုဟာ ဟားတိုက်ရယ်ပြီး ယိုင်ထိုးယိုင်ထိုးနဲ့ ထွက်သွားကြတယ်၊ လမ်းပေါ်မှာ ပုလင်းကွဲတွေက ပြန့်ကျဲကျန်ရစ်ခဲ့ပြီး ...
A group of drunkard go on with faltering steps. The pieces of broken to bottle spread on the street.

ဟာ မမ မေမြတ်နိုး
ဒီမှာ ပုလင်းကွဲတွေ
Sister, there are the pieces of broken bottle.

အေးဟယ်
လမ်းသွားလမ်းလာ
တွေတော့ စူးမိတော့မှာပဲ
လာ လာ မမတို့ကောက်ပြီး
လမ်းပေါ်က ဖယ်ရှားပေး
လိုက်ကြရအောင်
It will sharp the walkers. Let's clean this shattered bottle.



## ကစားဝင့်ယဉ်ကျေးခြင်း

Be polite when you play

ကစားသောအခါ မိမိပျော်ရွှင်ရန်ကိုသာ ဂရုပြုရာ၏ သူတစ်ပါးအား ထိခိုက်နစ်နာစေခြင်းမရှိအောင် (ကိုယ်ကာယ၌ ကျန်းမာသန်စွမ်း စေသောကစားနည်းမျိုးကိုသာရွေး၍ ကစားရာ၏)

When you play, don't be harmful to others

ဒီနေ့ ကျောင်းတွင်း ဘောလုံးပြိုင်ပွဲမှာ ဟိန်းထက်အောင်တို့ ကျန်စစ်သားအသင်းနဲ့ မောင်ငယ်တို့ ဗန္ဓုလအသင်းတို့ ကန်ရမှာဖြစ်ပါတယ် ...

Today, Hein Htet Aung's Kyan Sitthar football team and Maung Ngai's Bandoola football team will play.

ဟေ့ကောင် ဟိန်းထက်အောင် နိုင်အောင်ကန်ကွာ

Hein Htet Aung, play to be winning team.

အေး ကန်မယ် ဒါပေမဲ့ မောင်ငယ်တို့ အသင်းမှာပါတဲ့ မျိုးဝင်းတို့ ပြုံးချိုတို့က သိပ်တော်တာကွ

Myo Win and Pyone Cho are good at playing.

သူတို့ကို နိုင်အောင်ကန်ဖို့ မလွယ်ဘူး ကြည်စိုးရ

It isn't easy to win over them, Kyi Soe.






သူတို့ပြောနေတဲ့စကားကို ကြားသွားတဲ့ အားကစားတာဝန်ခံ ဆရာဝင်းဖေ မျက်လုံးပြူးသွားတော့တယ်။

When the physical teacher hears their voice, his eyes are widened.




ဒါကြောင့် တပည့်တို့ ဘောလုံးကန်တဲ့အခါ သူတစ်ပါး ထိခိုက်နစ်နာအောင် သူတစ်ပါးဒဏ်ရာရအောင် နာကျင်သွားအောင်လုပ်မယ်ဆိုတဲ့ စိတ်ထားဆိုးမျိုးနဲ့ မကန်သင့်ဘူးကွဲ့.
Don't be silly in playing. With such a mindset. Don't do the others to be wounded.


ကိုယ်ဝါသနာပါတဲ့ ဘောလုံးကို ပျော်ပျော်ရွှင်ရွှင်သာ ကစားသင့်ကြတယ်ကွဲ့၊ ကြည့်တဲ့ သူတွေရောကန်တဲ့သူတွေရော အားလုံး ပျော်ရွှင်စေဖို့ပဲ ရည်ရွယ်ကစားကြပါကွယ်
Improve your hobby to play football means to enjoy the on lockers.
ဟုတ်ကဲ့ ဆရာ ကျွန်တော်တို့မှားပါတယ် ခင်ဗျာ၊ စိတ်ထားဆိုးတွေ မထားတော့ပါဘူးခင်ဗျာ
We are wrong sir. We will mend our mindset.



ကစားသောအခါ အစုအသင်းဖွဲ့၍ ကစားခြင်းသည်
တစ်ကိုယ်ကောင်းကြံတတ်သောစိတ်ကို ပယ်ဖျောက်စေသောကြောင့်
ထိုကစားနည်းမျိုးကို အားပေးရာ၏။ (တစ်ကိုယ်ကောင်းအစွမ်းပြခြင်းထက်
အဖွဲ့သားများနှင့် ပူးပေါင်းညီညွတ်စွာ ကစားခြင်းကို ပြုရာ၏)

Play with team-spirit expell the selfishness

ဟိန်းထက်အောင်တို့ရဲ့ကျန်စစ်သား
အသင်းနဲ့ မောင်ငယ်တို့ရဲ့ဗန္ဓုလ
အသင်းတို့ ဘောလုံးစကန်ကြပါပြီ။

Hein Htet Aung's Kyan Sittha football team and Maung Ngai's Bandoola team start to play football.

မောင်ငယ်ကွ
မောင်ငယ်
Maung Ngai!

မျိုးဝင်းကွ
မျိုးဝင်း
Myo Win!

မောင်ငယ်တို့ရဲ့ ဗန္ဓုလ
အသင်းက မောင်ငယ်
မျိုးဝင်းနဲ့ ပြုံးချိုတို့ဟာ
ဘောလုံးကန်တဲ့နေရာမှာ
အင်မတန် ထူးချွန်သူတွေ
ဖြစ်ပြီး

Maung Ngai, Myo Win and Pyone Cho are good at playing football.



သူတို့နာမည်ပိုကြီးစေဖို့ သူတို့ကိုယ်တိုင်
ဂိုးသွင်းနိုင်အောင်ပဲ အာရုံစိုက်ကန်ကြတယ်။

To get popularity, they try only
to kick the goal.

ဘောလုံးရပြီ ဘယ်သူ့မှ
မပေးဘူး။ ငါ့ဘာသာ ဆွဲပြေး
ပြီး ဂိုးသွင်းမယ်၊ ဒါမှ ငါ
နာမည်ကြီးမှာ

I get the ball, I don't
pass it to others. I'll
kick into the goal.

?

မောင်ငယ်တို့ရဲ့ဗန္ဓုလအသင်းမှာ ထူးချွန်
တဲ့သူတွေရှိပေမယ့် အသင်းသားအချင်း
ချင်း ဘောလုံးပေးမကစားဘဲ တစ်ကိုယ်
တော်အစွမ်းပြဖို့ပဲ ကြိုးစားနေတဲ့အတွက်
ဂိုးမသွင်းနိုင်ဘဲ ဖြစ်နေတယ်။

The plays in Maung Ngai team
are good at playing, but they
are selfish. So they can't kick
the goal.

ဟိန်းထက်အောင်တို့ရဲ့ဘက်က အသင်းသားတွေထဲမှာတော့ ထူးထူးခြားခြား ထူးချွန်တဲ့ဘောလုံးသမားမပါပေမယ့် တစ်သင်းလုံး ညီညီညွတ်ညွတ်နဲ့ လုပေးကစားကြတာကြောင့် ပွဲပြီးခါနီးမှာ နှစ်ဂိုးဆက်တိုက်သွင်းနိုင်ပြီး အနိုင်ရသွားပါတော့တယ်။

Though there are no good players in Hein Htet Aung's team, they can play unitedly. So they can kick two goals.

ဟေး ဟိန်းထက်
အောင်ကွ
Hey!
Hein Htet Aung!

ဒါဟာ အားကစားပြိုင်ပွဲမှာ တစ်ကိုယ်ကောင်းမကစားဘဲ အသင်းသားများနဲ့ မျှမျှတတ ညီညီညွတ်ညွတ် ကစားတဲ့ အကျိုးကို ကျန်စစ်သားအသင်းသားတွေ ခံစားရရှိသွားတာပဲ ဖြစ်ပါတယ် ...

In this competition, the selfish team lose and the Kyan Sittha team become winner because they play in unity.



အပျော်အရွှင် အနိုင်အရှုံးကစားခြင်း၌ အရှုံးအနိုင်ကို မထား
မထားဘဲ ကျန်းမာရေးနှင့်ပျော်ရွှင်စရာကိုသာလျှင် ဦးထားကစားရာ၏

In playing the game, competition is the main theme, not only to be winner




မေမြတ်နိုးတို့ ကြိုးစားကစားပေမယ့် သူတို့ဘက်က မိန်းကလေးတွေဟာ လွတ်အောင်မတိုးနိုင်ဘဲ သူတို့အသင်းတိုးရတဲ့အလှည့်ကျရင် ခဏလေးနဲ့ ဖမ်းအမိခံရလေ့ရှိတယ် ...

The girls in May Myat Noe's team cannot penetrate and they have be caught.






သူတို့အသင်း တားရတဲ့အလှည့်မှာကျတော့
လျင်မြန်လှတဲ့ တစ်ဖက်အသင်းက မိန်း
ကလေးတွေကို မိအောင်မဖမ်းနိုင်ဘဲ

For their turn to block the other team, they can't catch well.

ဝေး အောင်ပြီကွ

Weii! We are the winner.

ဟာ လွတ်
သွားပြန်ပြီ

Huh! She escape again.

ပွဲလည်းပြီးရော သူတို့အသင်း
ရှုံးသွားတဲ့အတွက် မေမြတ်နိုး
ဟာ ချုံးပွဲချ ငိုကြွေးတော့တယ်။

Eventually, as their team is lost, May Myat Noe sobs.

အင့်
အင့် အီး

Ee! Hee!

အဲဒီအခါ မြင့်မိုရ်မေမေက သမီးဖြစ်သူကို
ဖျောင်းဖျဆုံးမတယ်။
At that time, Myint Moh May May soothes and consoles her daughter.

သမီး ဘာဖြစ်လို့
ငိုနေတာလဲကွယ်၊ အားကစား
ပြိုင်ပွဲမှာ ဝင်ရောက်ယှဉ်ပြိုင်ကစား
တာဟာ ကျန်းမာကြံ့ခိုင်စေဖို့နဲ့
ပျော်ရွှင်စေဖို့ သမီးရဲ့
Daughter, why are you weeping. Participating in the competition is only to get strength and health.



အနိုင်အရှုံးဟာ ပဓာန
မကျဘူး။ ဒါကြောင့်သိပ်လည်းဝမ်းနည်း
ကြေကွဲ ထိခိုက်မနေပါနဲ့ကွယ်၊ နောက်နှစ်
တွေမှာဆက်ပြီးကြိုးစားခွင့် ယှဉ်ပြိုင်ခွင့်ရှိပါ
သေးတယ်သမီးရဲ့ မငိုနဲ့တော့နော် တိတ် တိတ်
Winning and losing is not the main theme. You can compete in next year. Don't cry anymore.



ကစားရာ၌ ဝမ်းသာဝမ်းနည်းခြင်းကို ထင်ရှားမပြရ
(နိုင်သောပွဲကို ကစားသကဲ့သို့ပင် ရှုံးသောပွဲကိုလည်း မိတ်မပျက်ဘဲ ကစားရာ၏)

Don't reveal your emotion in sports

ဒီနေ့ မြို့နယ်ကျောင်းပေါင်းစုံဘောလုံးပြိုင်ပွဲမှာ ဟိန်းထက်အောင်တို့ ကျောင်းဘောလုံးအသင်းနဲ့ တစ်ဖက်ရပ်ကွက်ကျောင်းက ဘောလုံးအသင်းတို့ ဗိုလ်လုပွဲ ကစားကြတယ်။

Today, the inter-school football tournnament is started. Hein Htet Aung's team play against the team from other school.









ဟိန်းထက်အောင်တို့ကျောင်းက ဂိုးတွေတစ်ဂိုးပြီးတစ်ဂိုး သွင်းနိုင်တဲ့အတွက် ပွဲလည်းပြီးရော ဆုဖလားကြီး ရရှိသွားတော့တယ် ...

As they have kicked one goal after another, and they get the soccer club.






တပည့်တို့ မင်းတို့နိုင်လို့ ပျော်တာလည်း ပျော်ပေါ့ကွာ၊ ဒါပေမဲ့ အားကစားပြိုင်ပွဲပြိုင်ရာမှာ ပြိုင်ဘက်အသင်းကို လေးစားရမယ်

Schoolchildren, you can enjoy for your success, but you must pay respect to other team.

ဒါကြောင့် ကိုယ်က နိုင်ပေမယ့် သိမ်ဝင့်ကြွားပြီး တစ်ဖက်အသင်းသားတွေမခံချင်ဖြစ်လောက်အောင် အောင်ပွဲမခံရဘူး၊ တပည့်တို့ရဲ့

Though you are winner, control your happiness or other team will hate you.

ကိုယ်ကရှုံးရင်လည်း စိတ်မပျက်ရဘူး။ နိုင်တဲ့အသင်းအပေါ် မနာလိုမရှုစိမ့် မဖြစ်ရဘူးကွဲ့.

You must not be in despair if you become a loser.

ကိုယ့်ရဲ့အောင်မြင်မှု ကျရှုံးမှုကို ထင်ထင်ရှားရှား မပြတာဟာ ယဉ်ကျေးတဲ့ သူတွေရဲ့ထုံးစံပဲကွဲ့.

Don't reveal your emotion whether you're winner or loser. That is the behaviour of polite people.

ဟုတ် ဟုတ်ကဲ့ဆရာ ကျွန်တော်တို့ ဆင်ခြင်ပါတော့မယ်ခင်ဗျာ

Yes, teacher, we won't do like this next time.



အငြင်းအခုန်ဖြစ်လျှင် တစ်ဖက်သားအား ပြောဆိုချက်ကိုလည်း ကြည့်ရှုနားထောင်ပါ။ အငြင်းအသန်မပါစေနှင့်။

If there is any dispute, listen carefully the other's accusation










တစ်ချီမှာတော့ ဗန္ဓုလအသင်း
က မျိုးဝင်းဟာ ဘောလုံးကို
ဆွဲပြေးလာပြီး ...
Myo Win from Bandoola team, carries the football.
ဂိုးဧရိယာထဲကို အရောက်
ကျန်စစ်သားအသင်းရဲ့
နောက်ခံလူ မောင်သက်က
ဘောလုံးကို အတင်းဝင်ဖျက်
လိုက်ရာ ...
Maung Thet from Kyan Sittha team interrupts him.


နှစ်ယောက်သား လုံးထွေး
ပြီး လဲကျသွားကြတော့
တယ် ...
Both of them fall together.


ဟေ့ကောင် မျိုးဝင်း မင်း
ပင်နယ်တီရအောင် တမင်
လှဲမချနဲ့
Myo Win, you do like that to obtain penalty.
ဘာကွ မင်းခြေထောက်နဲ့
ကန့်လန့်ခံလိုက်လို့ ငါ
လဲကျသွားရတာပါကွ
What? You interrupt with your leg in front of me.
မဟုတ်ဘူး မင်းရဲ့ခြေထောက်
နဲ့ ငါ့ခြေထောက် လုံးဝမထိဘူး၊
မင်းတမင်လှဲချတာ
No, my leg doesn't touches yours. You fall yourself intentionally.



ဒိုင်လူကြီးဆုံးဖြတ်ချက်ကို မှားသည်ဖြစ်စေ မှန်သည်ဖြစ်စေ
ဆင်ခြေမတက်ဘဲ အမိန့်ကိုရိုသေစွာ နာခံရမည်။
ဒိုင်လူကြီးမရှိလျှင် အသင့်အတင့်ဖြစ်အောင် အညီအညွတ် ဆုံးဖြတ်ပါ။

Comply the decision of referee whether it is right or wrong.

ကျောင်းတွင်း ဘောလုံးပြိုင်ပွဲမှာ ကျန်စစ်သားအသင်းက ဘောလုံးသမားတွေနဲ့ ဗန္ဓုလအသင်းက ဘောလုံးသမားတွေဟာ မကြာခဏ အငြင်းပွားတတ်ကြတယ် ...

There are so many dispute among Kyan Sittha and Bandoola football teams.




ဗန္ဓုလအသင်းက အလယ်တန်းလူ ပြုံးချိုဟာ ဘောလုံးကိုဆွဲပြေးပြီး ရှေ့ကိုကန်တင်လိုက်တဲ့အခါ ...

When the centre forward player Pyone Cho kicks the ball.






မျိုးဝင်းက ဘောလုံးကို ရင်ဘတ်နဲ့ ဆီးတားလိုက်ပြီးတဲ့နောက်
Myo Win catches the ball with his chest and
ဖတ်
Phatt!


ဂိုးပေါက်ထဲ ကန်သွင်းလိုက်ပါတယ်။
kicks into the goal.
ဘုန်း
Boom!
ဂိုး
Goal!
ဂိုး
Goal!


ဟေ့ကောင်တွေ လူကျံ့ ဘောကွ လူကျံ့ဘော ဂိုးမပေးဘူး
Hey! It's man-out. Not goal.
ဘာ လူကျံ့တာလဲ၊ ဘာမှလူမကျံ့ဘူး။ မင်းတို့မငြင်းနဲ့
Don't deny it. It isn't man-out.
Shwee!
Shwee!



အငြင်းပွားနေတဲ့ သူတို့နှစ်ဦးရဲ့အနီး ကျန်စစ်သားအသင်း ခေါင်းဆောင် ဟိန်းထက်အောင် ရောက်ရှိလာတယ်။

While they are disputing over the goal, team leader Hein Htet Aung arrives.




ဗန္ဓုလအသင်းခေါင်းဆောင် မောင်ငယ်လည်း ရောက်လာတယ်။

The team leader of Bandoola, Maung Ngai also comes to the scene.



ဒိုင်လူကြီးက ရောက်ရှိလာပြီး လူကျွံဘောဖြစ်တယ်လို့ ဆုံးဖြတ်လိုက်တဲ့အတွက် ဗန္ဓုလအသင်းဟာ ဂိုးမရပါဘူး ...

When the referee arrives and decides that it is the man-out. So, the Bandoola team does not get the goal.












ကစားစဉ် မတော်တဆ ထိခိုက်မိလျှင် အပြစ်မတင်ပါနှင့်။
တမင်လုပ်သည်မဟုတ်ဟု ယူဆပါ။

Don't mention if you're injure while playing

မိမိကလည်း မရည်ရွယ်ဘဲ ကျူးလွန်ပြုလုပ်မိတတ်သည်ကို သတိပြုပါ။

Notice that you have don casually like that




တစ်ချိန်မှာတော့ ကျန်စစ်သားအသင်းက ဟိန်းထက်အောင်နဲ့ ဗန္ဓုလအသင်းက မောင်ငယ်တို့ဟာ မြောက်တက်လာတဲ့ ဘောလုံးကို ခုန်ပြီး ခေါင်းယှဉ်တိုက်ရာက ...
At one time, Hein Htet Aung and Maung Ngai simultaneously ran into incoming ball with their heads.












မောင်ငယ်က တောင်းပန်ရင်း ဟိန်းထက်အောင်ကို ဆွဲထူပေးတယ် ...

Maung Ngai asks for his pardon and extend his hand to Hein Htet Aung to stand up.



ဟိန်းထက်အောင်က နောက်စေ့ကို လက်နဲ့ ပွတ်ရင်း ပြုံးလျက်ထလာတယ် ...

Hein Htet Aung, rubbing his back of his head and stands up with a smile.









ကြမ်းတမ်းသောစကား ကြမ်းတမ်းသောအပြုအမူတို့ကို အကျင့်မသုံးပါနှင့်။
(ပုံ၍ ရမ်းခြင်းသည် အလွန်ရှက်ဖွယ်ကောင်းသော အပြုအမူဖြစ်သည်)

Don't be rude in speech and manner




ဖိုလ်လုပွဲမှာ ဂိုးပြတ်နဲ့နိုင်သွားတဲ့ ကျန်စစ်သားအသင်းသားတွေဟာ ဆုဖလားကြီးကိုင်မြှောက်ပြီး ပျော်နေသလောက် ရှုံးပြီး ချန်ပီယံဆုကြီးနဲ့ လွဲသွားရတဲ့ ဗန္ဓုလအသင်းသားတွေဟာ မခံချိ မခံသာနဲ့ ယူကြုံးမရ ဖြစ်နေကြရတယ် ...

While the Kyan Sitthar team become champion and they are delighted, the loser team Bandoola is annoyed by their failure.





တောက်
ဒိုင်လူကြီးက ဘက်
လိုက်တယ်ကွ၊ ငါတို့ရတဲ့
ဂိုးကျတော့ လူကျွံဘောဆိုပြီး
ဂိုးမပေးဘူး
Tok! The referee is aligned to them. He decided that our team is man-out.

ဒါကြောင့်ပြောတာပေါ့ကွ
အဲဒီကောင်တွေနဲ့ ဆု
ဖလားကြီးမတန်ပါဘူးလို့
So their team doesn't deserve to get this champion cup.

ဟေ့ကောင်တွေ မင်းတို့
ရှုံးမဲ လာမမဲနဲ့
Hey! Guys! Loser is loser!

မဲတော့ ဘာဖြစ်သလဲကွာ
အချောင်သမား တစ်ဘို့
တည်းသမား နွားတွေ
You're unilaterally winner, just like an ox with one hump.

ဘာကွ
What!


ဟေ့ ဟေ့ တပည့်တို့ အချင်းမများကြနဲ့၊ မင်းတို့ တစ်ကျောင်းတည်းသားချင်း ကြမ်းကြမ်းတမ်းတမ်း ပြောဆို ပြုမူတာမျိုး မလုပ်ကြနဲ့
Hey! My pupil, don't be quarrel. Don't say and act rudely.
နိုင်တဲ့သူက မမောက်မာ သင့်သလို ရှုံးတဲ့သူကလည်း ရှုံးမဲ မမဲနဲ့၊ ကိုယ်ရှုံးလို့ ရမ်းတာဟာ ရှက်စရာ အင်မတန်ကောင်းတဲ့အပြုအမူပဲ၊ ဒီတစ်ခါ ရှုံးရင် နောက်တစ်ခါ နိုင်အောင်ကြိုးစားကြမှပေါ့
Winner should not be boastful and loser should not be down-hearted. Try your best next time.
ဟုတ် ဟုတ်ကဲ့ပါ ဆရာ
Yes teacher.

## အထွေထွေယဉ်ကျေးခြင်း
## General Politeness

လူကြီးများနှင့် ဆရာများကို နှုတ်ဆက်ရာတွင် ဦးညွှတ်၍လည်းကောင်း၊
မင်္ဂလာပါဟုလည်းကောင်း ပြောဆို၍နှုတ်ဆက်ရမည်။
ဆရာ-မိဘ-လူကြီးများနှင့်စကားပြောလျှင် ထိုသူတို့ကို ကြည့်၍ ရိုသေစွာပြောရမည်။

When you greet teachers and elderly people, bow down your head respectfully

မင်္ဂလာပါ ဘဘ
နေကောင်းတယ်နော်
Auspiciousness to you, grandpa. How do you do?

အေး နေကောင်း
ပါတယ်ကွယ်
Yes, I'm well.

အခု ဘယ်က
ပြန်လာတာလဲ ခင်ဗျ
Where do you come from?

ကျန်းမာရေးအတွက်
မနက်စောစော လမ်း
ထလျှောက်တာကွဲ့ မြေးရဲ့
I take a walk early
in the morning for
my health.

ခုလို ဆောင်းတွင်းမှာ
မနက်စောစော အိပ်ရာကထပြီး
လမ်းလျှောက်တာဟာ သွေးလေ
လည်ပတ်မှု ညီညွတ်စေတယ်ကွဲ့
Walking early in the winter is
good for health.

မနက်စောစော လေနု
အေးလေးကို ရှူရှိုက်ရတဲ့
အတွက် အဆုတ်ကိုလည်း
အားကောင်းစေတယ်ကွဲ့
In the early morning,
breathing the fresh
and cool air cleans
the lung.



မနက်စောစော လမ်းလျှောက်ရာက ပြန်လာတဲ့အဘိုးထီက လမ်းလျှောက်ခြင်းရဲ့အကျိုးကျေးဇူးတွေကို ပြောပြနေတဲ့အတွက် ဟိန်းထက်အောင်ဟာ အဘိုးထီရဲ့မျက်နှာကိုကြည့်ပြီး ရိုရိုသေသေ နားထောင်လို့နေတယ် ...

Grandpa Po Hti, who has just return from walk tell about the effectiveness of waking to Hein Htet Aung and he listens the words with his eyes looking at the grandpa.

သူ့ရဲ့အမေ မြင့်မိုရ်မေမေက လူကြီးသူမနဲ့ စကားပြောရင် အဲဒီလူကြီးရဲ့မျက်နှာကိုကြည့်ပြီး ရိုရိုသေသေ ပြန်ပြောရမယ်တဲ့၊ မျက်နှာလွှဲပြီး မပြောရဘူးတဲ့၊ အဲဒါမှ ယဉ်ကျေးတာတဲ့၊ အဲဒီလိုဆုံးမပြောပြထားလို့လေ ...

His mother Myint Mo Mai Mai has told him that if the elderly people tells him he must look at his face respectfully. Don't turn the head to other side.



## သူတစ်ပါးစကားပြောလျှင် ကြားဖြတ်၍ မပြောရ။

While someone is talking, don't interrupt him

တစ်ခါက မေမြတ်နိုးတို့အိမ်ကို တစ်ခါမှ မရောက်ဖူးတဲ့ မော်လမြိုင်ကျွန်းမြို့ကလေးက ဦးလေးဝမ်းကွဲ ဦးလေးဘစီ အလည်အပတ်ရောက်လာပြီး ...

Once Mai Myat Noe's second uncle U Ba Si visit their house.

ဟော ဦးလေးဘစီ လာပြီ

Uncle Ba Si is coming.

ညလည်းကျရော စကားဝိုင်းမှာ သူတို့မြို့က အကြောင်းတွေ ပြောပြတော့တယ် ...

At night he talks about his native Mawlamyaing Kyun.

မင်းတို့ကွာ ငါတို့မြို့က တာဝတိံသာပွဲကျရင် လာစမ်းပါ စည်မှစည်ပဲ အဲဒီကျရင်

Visit to our Tavatimsa festival in our town.



ဦးလေး တာဝတိံသာပွဲ ဆိုတာ ဘယ်လိုပွဲမျိုးလဲ ဟင်
Uncle, what is the Tavatimsa festival?

အို သား ဟိန်းထက်အောင် သူများတကာ စကားပြောရင် ကြားဖြတ်မေးတာတို့ ကြားဖြတ် လုယက်ပြောတာတို့ မလုပ်ရဘူးလို့ မေမေမှာထားတယ်လေ
Oh! Son, don't interrupt while someone is talking.

ဪ ဟုတ်ကဲ့ မေမေ သားသိချင်တာနဲ့ သတိလွတ်ပြီး ဖြတ်မေးမိတာပါ
Oh! Yes, mother. It's because I'm eager to know about it.


မြင့်မိုရ်မေမေစာပေ


အေး သူတစ်ပါးစကားပြောနေတဲ့ အခါ ကြားဖြတ်ပြီးမပြောရ မမေးရ သလို စကားပြောဆိုဆက်ဆံရာမှာ လည်း ပြုံးပြုံးရွှင်ရွှင်နဲ့ ပြောဆို ဆက်ဆံရမယ်ကွဲ့၊ ကြားလား
Well, if you talk to other, you must wear a smiling face and associate politely.


ဟုတ်ကဲ့ပါ မေမေ၊ သားမှတ်ထားပါ့မယ်၊ နောက်ကို သူများပြောနေတုန်း ကြားဖြတ်မပြောတော့ပါဘူး
Yes, mother, next time, I won't interrup while someone is talking.


သိချင်တာရှိရင် နောက်မှ မေးမယ်၊ ကြားဖြတ်မေးတာ မျိုးလည်း မလုပ်တော့ပါဘူး မေမေ
If I want to know I will ask him later.



## မနှစ်သက်ဖွယ်သောစကား အကျိုးမရှိသောစကားကို မပြောရ။ ရိုင်းပြသောစကား အသုံးအနှုန်းကို ရှောင်ကြဉ်ရမည်။

## Don't use the rude word when talking with other people

မေမြတ်နိုးတို့ရပ်ကွက်ထဲက ဒေါ်သန်းမြင့် ဒေါ်ကျင်နဲ့ မအေးမူတို့ဟာ လမ်းဘေးမှာ ဖိနပ်ဖင်ခုကာ တန်းစီထိုင်ရင်း သန်းတုတ်နေကြတုန်းမှာပဲ သူတစ်ပါးရဲ့အတင်းတွေကို တစ်ယောက်တစ်ပေါက် ပြောနေကြတော့တယ်။

In the quarter where Mai Myat Noe lives, there Daw Than Myint, Daw Kyin and Ma Aye Mu and they sit on their slippers and they search hair-louse each other's head and the gossip about others.

ငါတို့လမ်းထိပ်က မငွေခင်ဟာ သူ့ယောကျ်ားအပေါ် သိပ်နိုင်တာဟဲ့၊ သူက သေဆိုသေ ရှင်ဆိုရှင်ပဲ

Ma Ngwe Khin who live head of our street bullies her husband.



အမယ်လေးအေ အဲဒါ
ဂုဏ်ယူစရာမဟုတ်ပါဘူး။
ညည်းတို့ကြည့်နေ ကြာရင်
သူ့ယောကျ်ားက မယားငယ်
ယူသွားလိမ့်မယ်
It isn't an honourable habit. Look! Later, her husband will be with a lesser wife.

ဂျွတ်..
Gyut!

အဲဒါမှ အဲဒီကောင်မ
အိမ်မြှောင်အမြီးပြတ်
သလို ဖျတ်ဖျတ်လူးကျန်ခဲ့မှာ
At that time she will be in trouble just like when the tail of lizard is cut-off.

အဲဒီတော့မှ လင်တရူးမ
ဖြစ်မှာ ဟင်း ဟင်း
ဟင်း
Then she will be crazy for her husband.

ခစ် ခစ်
ခစ် ဟုတ်ပါရဲ့
Yes, of course, Kheet! Kheet!



ဒေါ်သန်းမြင့်တို့အတင်းပြောနေကြတာကို အိမ်ထဲက လှမ်းကြည့်ရင်း မြင့်မိုရ်မေမေက မေမြတ်နိုးကို ဆုံးမတယ် ...

Myint Mo Mai Mai, looking at Ma Than Myint, tells her daughter Mai Myat Noe.






# ပါးစပ်ထဲသို့ လက်ထည့်၍ကိုက်ခြင်း လက်သည်းကိုကိုက်ခြင်း မပြုရ

Don't bite the nail with your teeth

နဒီမှာ မကောင်းတဲ့အကျင့်တစ်ခု ရှိတယ်၊ အဲဒါကတော့ နေရင်းထိုင်ရင်း လက်သည်းကိုက်နေတတ်တာပါပဲ။

Nadi has a bad habit. She used to bite her nail with her teeth.

မေမေရေ ဒီမှာ နဒီ လက်သည်းကိုက်နေပြန်ပြီ

Mother, Nadi is biting her nails.

ဟုတ်လား၊ သမီး၊ လက်သည်းမကိုက်ရဘူးလို့ မေမေမှာထားရက်နဲ့ ဘာဖြစ်လို့ လက်သည်းကိုက်ကိုက်နေရတာလဲကွဲ့.

Daughter I've told you not to bite your nail with your teeth.

သ သမီး သတိထားနေတဲ့
ကြားက သတိလွတ်သွားပြီး
ကိုက်နေမိတာပါ မေမေ
Despite I aware of it,
I do it casually.

အေး
မကောင်းတဲ့အကျင့်တစ်ခုဟာ
အရိုးစွဲပြီး အလေ့အထဖြစ်သွားရင်
သတိလွတ်သွားတာနဲ့ ပြန်ပြန်
ပေါ်လာတတ်တယ်ကွဲ့.
Well, the bad habit will
appear non
nonintentionally.

မေမေ လက်သည်းကို
ဘာဖြစ်လို့ မကိုက်ရ
တာလဲဟင်
Mother, why don't I
bite the nail?

လက်ကို ပါးစပ်ထဲမထည့်ရဘူး၊
လက်သည်းမကိုက်ရဘူးလို့
သတိပေးရတာဟာ ကျန်းမာ
ရေးအတွက်ကြောင့်ပဲကွဲ့.
Don't put your finger into the
mouth and don't bite the nail
with your teeth because it
will harm your health.



လူရဲ့လက်တွေဟာ
နေရာတကာ ကိုင်တွယ်
မိလေ့ရှိတယ်၊ အဲဒီတော့ နေရာ
စုံကဘက်တီးရီးယား ရောဂါ
ပိုးတွေက လက်နဲ့လက်သည်းတွေရဲ့
ကြားမှာ ကပ်ငြိနေတတ်တယ်ကွဲ့.

The hand touches with all the things. At that time all the bacteria sticks to the hand and they take place among the nails.

အဲဒီ ဘက်တီးရီးယား
ပိုးတွေ ဝမ်းထဲဝင်သွားပြီး

These bacteria enter into your body.

ဝမ်းပျက်ဝမ်းလျှော
ရောဂါအပါအဝင် ရောဂါမျိုးစုံဖြစ်
တတ်တယ်ကွဲ့၊ ဒါကြောင့်
လက်ကိုပါးစပ်ထဲ မထည့်ရဘူး
လက်သည်းမကိုက်ရဘူးဟုတ်လား

You'll suffer disease including cholera. So don't put your finger into your mouth and don't bite nail.

ဟုတ်ကဲ့ပါ မေမေ၊ သမီး
နောက်ကို အဲဒီလို မလုပ်
တော့ပါဘူး

Yes, mother, I don't do like this anymore.



## မိမိ၏တာဝန်ဝတ္တရားများကို မညည်းမညူဘဲ ပြီးစီးအောင် ဆောင်ရွက်ရာ၏

## Serve your duty up to accomplishment

သားတို့သမီးတို့ ကျောင်းကပေးလိုက်တဲ့ အိမ်စာတွေ လုပ်ပြီးကြပြီလား
Children, have you done your homeworks?

သမီး လုပ်ပြီးပြီ မေမေ
I've finished, mother.

သားက သချ်ာနှစ်ပုဒ်တွက်ဖို့ ကျန်သေးတယ် မေမေ
I've two sums to calculate.

အေး အေး ဒါဆို တွက် တွက်ကြ
If so, do it now.

သမီးကြီးရော အိမ်စာ တွေပြီးပြီလားကွဲ့

My eldest daughter, have you finished your homework?

ဟုတ်ကဲ့ အိမ်စာတွေ လုပ်ပြီးလို့ ဘုရားစင်က ဘုရားပန်းတွေ ရေလဲပြီးပါပြီ မေမေ

I've finished and moreover I've finished cleaning flower pots at the altar.

သားလည်း အိမ်စာလုပ်ပြီးရင် သောက်ရေအိုး ရေဖြည့်ပါ့မယ် မေမေ

If I've done my sum, I'll fill the drinking water.

အေး ယဉ်ကျေးတဲ့ သူတွေဟာ ကိုယ့်ရဲ့တာဝန် ဝတ္တရားကို ကိုယ်ကျေပွန်အောင် ဆောင်ရွက်ရတယ်ကွဲ့

Well, polite children do their works dutifully.

ကျောင်းမှာဖြစ်ဖြစ်
အလုပ်ခွင်မှာဖြစ်ဖြစ်
အိမ်မှာဖြစ်ဖြစ် ကိုယ့်ရဲ့တာဝန်ဝတ္တရား
ကို မညည်းညူဘဲ ပြီးစီးအောင်
ဆောင်ရွက်ရမယ်ကွဲ့.
You must work up to accomplishment whether you're at school, office or at home.

အဲဒီလို လူတိုင်းကိုယ်စီ
တာဝန်ကျေအောင် ဆောင်ရွက်
မှ လူမှုပတ်ဝန်းကျင်ဟာ သာယာ
စိုပြေတိုးတက်လာမှာပေါ့
By doing so, the social sphere will be a pleasant one.

ဟုတ်ကဲ့ပါ မေမေ၊
သားတို့တာဝန်ဝတ္တရား
ကျေပွန်အောင် ဆောင်
ရွက်ပါ့မယ်
Yes, mother, we will serve dutifully.

အေး သာဓု
သာဓု သာဓုပါကွယ်
O.K! Well done! Well done! Well done!

## သူတစ်ပါး၏ပျော်ရွှင်မှုကို မနှောင့်ယှက်ရ

## Don't disturb other's happiness

နဒီဟာ လပတ်စာမေးပွဲမှာ ဒုတိယရတဲ့အတွက် ပျော်နေရှာတယ်။
Nadi is very happy for she gets second position in monthly exam.

ဟယ် ဟုတ်လား မေမေ ဝမ်းသာလိုက်တာကွယ်
Good! I'm very please to hear that.

မေမေ ဒီလ စာမေးပွဲ ဖြေတာမှာ သမီး ဒုတိယ ရတယ်
Mother, I get second position in this month's exam.

သမီးလည်း ခါတိုင်း အဆင့်လေး ငါးပဲရတာ၊ အခု အဆင့်နှစ်ရတော့ အရမ်း ပျော်တာပဲ မေမေ
Usually, my position is four or five. Now I get second position. I'm very glad.




အဆင့်နှစ် ဟုတ်လား
ဘာလုပ်ရမှာလဲ၊ ငါတို့ကတော့
အဆင့်တစ်ရမှ ပထမရမှ
ကျေနပ်တာ
Position second? What is the use of it? I satisfy if I get first position.


အဆင့်နှစ်ရတာလောက်တော့
ဂုဏ်ယူစရာမရှိပါဘူး။ လင်းတ
လောက်တော့ ငှက်တိုင်းလှပါတယ်
ဟာ ဟား ဟား ဟား
It's not an honourable position. Ha! Ha!


ကိုကိုနော် သူများကို
အသားလွှတ်လာပြီး
ရွှတ်ချတယ်
Brother, don't blame me like this.


ဟုတ်သားပဲ
သား ဟိန်းထက်အောင်ရဲ့
သူတစ်ပါးရဲ့ပျော်ရွှင်မှုကို မဖျက်ဆီး
မနှောင့်ယှက်ရဘူးကွဲ့
Son, don't disturb the other's happiness.



ပြီးတော့ သူတစ်ပါးကို
မနာလိုမရှုစိမ့်မဖြစ်ဘဲ စေတနာ
ကောင်းကောင်းနဲ့ ဆက်ဆံပြောဆိုသင့်
တယ်ကွဲ့၊ ဒါမှလူယဉ်ကျေးပီသမှာပေါ့

And don't be jealousy to other's success and have good conscience. It's the polite manner.

ညီမလေး ပျော်နေတာကို
မဖျက်ဆီး မနှောင့်ယှက်ဘဲ
အားပေးသင့်တယ် သားရဲ့

You should encourage your younger sister's success and don't disturb her happiness.

အခုလ ဒုတိယရရင်
နောက်လမှာ ပထမရအောင်
ကြိုးစားဖို့ အားပေး
တိုက်တွန်းသင့်တယ်ကွဲ့.

You should encourage her to get first position for next month.

ဟုတ်ကဲ့ သား
မှားသွားပါတယ် မေမေ၊
ညီမလေးကို အားပေး
တိုက်တွန်းသွားပါတော့မယ်

Yes, mother, I've done wrong. I'll encourage my youngest sister.



## ရဟန်း-မိဘ-ဆရာသမား-လူကြီးသူမတို့၏ရှေ့မှ ဖြတ်လျှောက်လျှင် ဦးညွတ်၍ လျှောက်ရမည်။

If you pass in front of the monks and elderly people you must bend down your body









ဒါဟာ ဂါရဝပြုတဲ့သဘော
လေးစား ဂရုပြုတဲ့
သဘောပဲကွဲ့.

That is the manner
of paying due respect.

အခုခေတ်လူငယ်တော်
တော်များများဟာ ရဟန်း
သံဃာ ဆရာသမား မိဘတို့ကို
ဂါရဝပြုရကောင်းမှန်း မသိကြဘူး

Today, some of the
youths do not pay
appropriate respect.

ရဟန်းသံဃာ မိဘတွေ ရှေ့က
ဖြတ်လျှောက်ရင် ဦးညွတ်သွားရ
ကောင်းမှန်းမသိကြဘူး။ အင်း
ဒါဟာလည်း အလုပ်တစ်ဖက်နဲ့မို့
သူတို့ရဲ့မိဘတွေက မဆုံးမမိခဲ့တာ
ကြောင့်လည်း ဖြစ်ချင်ဖြစ်မှာပေါ့လေ

It will be possible that their
parents are too busy to
admonish them. So they
lack to pay respect.



## ရဟန်းသံဃာက တစ်စုံတစ်ရာ မိန့်ကြားပြီးလျှင် မိမိက ဟုတ်ကဲ့လို့ ပြန်မပြောရ တင်ပါ့ဘုရားလို့ ပြောရမည်။

When the monk tells you something you must respond with the word "Timbar"

အိမ်မှာ မကြာခဏ သံဃာတော်တွေ ပင့်ဖိတ်ပြီး ဆွမ်းကပ်လေ့ရှိတာမို့ မေမြတ်နိုးတို့မောင်နှမတွေဟာ ရဟန်းသံဃာတော်တွေနဲ့ရင်းနှီးပြီး ရဟန်းသံဃာတော်တွေနဲ့ စကားပြောရင် ဘယ်လိုပြောဆိုလျှောက်ထားရမယ်ဆိုတာကို နားလည်ထားကြပါတယ် ...

As their family used to invite and offer the meal to monks, Mai Myat Noe and her siblings are familiar with the usage of communication.

မေမြတ်နိုး စာမေးပွဲ ပြီးပြီလားကွဲ့.

Mai Myat Noe have you finished your exam?

တင်ပါ့ ပြီးပါပြီ ဘုန်းဘုန်း

"Timbar" I've finished Your Highness.



အေး စာမေးပွဲပြီးလို့
နွေရာသီ ကျောင်းပိတ်တဲ့အခါ
ကွန်ပျူတာသင်တန်းတို့ဘာတို့
တက်ပေါ့၊ အိမ်မှာအိပ်လိုက်
စားလိုက်နဲ့ အလကားမနေနဲ့
During the summer holiday, attend the computer training. Don't waste the time by eating and sleeping.

တင်ပါ့ဘုရား တပည့်
တော် သင်တန်းတွေ
တက်မှာပါဘုရား
"Timbar" Your Highness. I'll attend the training.

ဟိန်းထက်အောင်ရော
စာမေးပွဲ ဖြေပြီးပြီလားကွဲ့
Hein Htet Aung, have you finished your exam?

ဟုတ် အဲ တင်
တင်ပါ့ဘုရား
Hok Ke! Eh! "Timbar" Your Highness.

## လမ်း၌ ရဟန်းသံဃာနှင့်တွေ့၍ စကားပြောဆိုလျှင် ရင်ဘတ်ရှေ့တွင် လက်အုပ်ချီထားလျက် ပြောဆိုရမည်။

When you meet a monk and converse with him, put your two palms at your chest

မေမြတ်နိုးတို့မောင်နှမတစ်တွေ ကျောင်းသွားကြတဲ့အခါ လမ်းမှာအိမ်ကို ဆွမ်းခံကြွနေကျ ဦးပဥ္စင်းနဲ့ ပက်ပင်းတိုးတော့တယ် ...

When Mai Myat Noe and her siblings go to school they meet a monk who regularly comes to their house to collect alms.

အရှင်ဘုရား ဆွမ်းခံထွက်ပြီလား ဘုရား

Your Highness, are you going out to collect alms?

အိမ်း ဟုတ်တယ်ကွဲ့၊ ကလေးတို့လည်းကျောင်းသွားကြပြီပေါ့

Em! Yes, are you going to school?

တင်ပါ့ဘုရား

"Timbar" Your Highness.



သံဃာတော်ကို ရင်ဘတ်ရှေ့မှာ လက်အုပ်လေးတွေချီလျက်
လျှောက်ထားပြောကြားနေကြတဲ့ မေမြတ်နိုးတို့ မောင်နှမတွေ
ကို တွေ့တဲ့လူတိုင်းက ချီးမွမ်းထောပနာ ပြုသွားကြလေရဲ့ ...

When the people see their behaviour, they praise
Mai Myat Noe and her siblings.

လိမ္မာလိုက်တဲ့ ကလေးတွေ
ယဉ်ကျေးကြပါပေရဲ့

How clever and polite
these children are!

ဟုတ်ပါ့တော် မိဘတွေ
ဆုံးမသွန်သင်မှုကောင်းလို့
ဒီကလေးတွေ ယဉ်ကျေး
လိမ္မာနေကြတာပဲဖြစ်ရမယ်

Yes, their parents admonish
them to become polite and
clever children.



